# ပြည်ထောင်စု သမ္မတ မြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
# ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ်၊ မနသ ၁၂၁၂/ ၂၀၁၆ ၂၀၁၆ ခုနှစ် စက်တင်ဘာ လ ၁၉ ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂(ခ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်-

(က) **ရင်းနှီးမြှုပ်နှံသူ၏အမည်** ဦးကိုကိုကြီး(ခ) ဦးစိုးနိုင်

(ခ) **အဘအမည်** ဦးစိန်မြင့်

(ဂ) **နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ်** ၁၂/ကတတ(နိုင်) ၀၁၂၂၄၃

(ဃ) **နေရပ်လိပ်စာ** အမှတ်-၂၅၆/၂၆၀၊ ဆူးလေဘုရားလမ်း၊ ကျောက်တံတားမြို့နယ်၊ ရန်ကုန်မြို့

(င) **ဖွဲ့စည်းထားသည့်သို့မဟုတ်ဖွဲ့စည်းမည့်အဖွဲ့အစည်း** ဒိုင်းမွန်းစတားကုမ္ပဏီလီမိတက် (Diamond Star Company Limited)

(စ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား** စားသောက်ကုန်များ၊စိုက်ပျိုးရေး အခြေခံလယ်ယာထွက်ကုန်သီးနှံများအား သန့်စင်ခြင်း၊ ပြုပြင်ထုပ်ပိုးခြင်း၊ သိုလှောင်ခြင်း နှင့် ငှားရမ်းခြင်း ဝန်ဆောင်မှုလုပ်ငန်း

(ဆ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အရပ်ဒေသ(များ)** အမရပူရဝါစက်ရုံဝန်း၊ စိုက်ပျိုးရေး ဦးစီးဌာန (စက်မှုသီးနှံဖွံ့ဖြိုးရေးဦးစီးဌာနပိုင်မြေ)၊ နတ်ရေကန်ကျေးရွာ၊ အမရပူရမြို့နယ်၊ မန္တလေးတိုင်းဒေသကြီးရှိ မြေဧရိယာ ၇.၇ ဧက

(ဇ) **မတည်ငွေရင်းပမာဏ(ကျပ်)** ကျပ် ၁၀၂၅၈.၉၇ သန်း(အမေရိကန်ဒေါ်လာ ၁.၇၃ သန်းအပါအဝင်)

(ဈ) **တည်ဆောက်မှုကာလ** ၁ နှစ် ၆ လ

(ည) **ရင်းနှီးမြှုပ်နှံမှုခွင့်ပြုသည့်သက်တမ်း** ၅၀ နှစ်

19.9.16

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ပြည်ထောင်စု သမ္မတ မြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်**

အမိန့်ကြော်ငြာစာအမှတ်၊ ၁၀၅ / ၂၀၁၆ (မနသ)

၂၀၁၆ ခုနှစ် စက်တင်ဘာ လ ၂၉ ရက်

၁။ ဒိုင်းမွန်းစတားကုမ္ပဏီလီမိတက် (Diamond Star Company Limited.) သည် လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၊ စိုက်ပျိုးရေးဦးစီးဌာန၊ စက်မှုသီးနှံဖွံ့ဖြိုးရေးဦးစီးဌာနပိုင်မြေ၊ အမရပူရမြို့နယ်၊ နတ်ရေကန်ကျေးရွာ၊ အမပူရဝါစက်ရုံဝန်း၊ မန္တလေးတိုင်းဒေသကြီးရှိ မြေဧရိယာ ၇.၇ ဧကကို B.O.T စနစ်ဖြင့် ငှားရမ်း၍ စားသောက်ကုန်များ၊ စိုက်ပျိုးရေး အခြေခံ လယ်ယာ ထွက်ကုန်သီးနှံများအား သန့်စင်ခြင်း၊ ပြုပြင်ထုတ်ပိုးခြင်း၊ သိုလှောင်ခြင်းနှင့် ငှားရမ်းခြင်း ဝန်ဆောင်မှုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးကိုကိုကြီး(ခ) ဦးစိုးနိုင် (အဘ-ဦးစိန်မြင့်) မှ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြု တင်ပြချက်အား ၂၀၁၆ ခုနှစ် စက်တင်ဘာ လ ၉ ရက်နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၇/၂၀၁၆) ကြိမ်မြောက် အစည်းအဝေး၌ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။

၂။ အဆိုပါ အစည်းအဝေး ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂(ခ) အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျှက် ဒိုင်းမွန်းစတားကုမ္ပဏီလီမိတက် ((Diamond Star Company Limited.) အား စားသောက်ကုန်များ၊ စိုက်ပျိုးရေး အခြေခံ လယ်ယာ ထွက်ကုန်သီးနှံများအား သန့်စင်ခြင်း၊ ပြုပြင်ထုတ်ပိုးခြင်း၊ သိုလှောင်ခြင်းနှင့် ငှားရမ်းခြင်း ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ- ၁၂၁၂ / ၂၀၁၆ ကို ထုတ်ပေး လိုက်သည်။

၃။ ဒိုင်းမွန်းစတားကုမ္ပဏီ လီမိတက် (Diamond Star Company Limited.) အနေဖြင့် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၁၁) အရ အောက်ပါ ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့်ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ ၂၀(က) အရ ဝင်ဆောင်မှုလုပ်ငန်း စီးပွားဖြစ် စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း (၅) နှစ်အထိ ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုသည်။

(ခ) ဥပဒေပုဒ်မ ၂၀(ဂ) အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့် ရန်ပုံငွေထား ၍ တစ်နှစ်အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ်

ဝင်ငွေခွန် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့် ခံစားနိုင်ရန် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံသည့် အခါ လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၂၇(စ) အရ ဝင်ငွေခွန် ကင်းလွတ်ခွင့် ခံစားပြီး တစ်ဆက်တည်း နှစ်နှစ်အတွင်း အမှန်တကယ်ပေါ်ပေါက်သည့်အရှုံးငွေကို ယင်းသို့အရှုံးပေါ်ပေါက်သည့် နှစ်မှစ၍ တစ်ဆက်တည်း သုံးနှစ်ကာလအထိ သယ်ယူခုနှိမ်ခွင့်ကို လုပ်ငန်း အမှန် တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျှက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၂၇ (ဆ) အရ လုပ်ငန်း စတင်တည်ဆောက်မှုကာလ အတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ တင်သွင်းလာသော ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာ အစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများ အပေါ်တွင် အကောက်ခွန်များဖြစ်စေ အခြားပြည်တွင်း အခွန်အကောက်များဖြစ်စေ၊ နှစ်မျိုးလုံးကို ဖြစ်စေ၊ ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ကို ဤကော်မရှင်သို့ တင်ပြ လျှောက်ထား ရမည်။

(င) ဥပဒေပုဒ်မ၂၇(ဇ) အရ ဝင်ငွေခွန် စည်းကြပ်ရန် ကိစ္စအလို့ငှာ ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အဆောက်အအုံ သို့မဟုတ် လုပ်ငန်းသုံး အခြားမတည် ပစ္စည်းများအပေါ်တွင် နိုင်ငံတော်က သတ်မှတ်ထားသည့် ပစ္စည်းတန်ဖိုး လျှော့တွက်နှုန်း များအတိုင်း တွက်ချက်ပြီး ပစ္စည်းတန်ဖိုး လျှော့တွက်ငွေကို အမြတ်ငွေထဲမှ နုတ်ပယ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြ လျှောက်ထား ရမည်။

(စ) ဥပဒေ ပုဒ်မ ၂၇(ည)အရ ရင်းနှီးမြှုပ်နှံမှု ပမာဏ တိုးမြှင့်ပြီး မူလ ရင်းနှီးမြှုပ်နှံသည့် လုပ်ငန်းကို ခွင့်ပြုထားသည့် သက်တမ်းကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍တင်သွင်းသောယာဉ်ယန္တရားများ၊ စက်ပစ္စည်းများ၊ စက်ကိရိယာ များ၊ အသုံးအဆောင် တန်ဆာပလာများ၊ စက်ကိရိယာ အစိတ်အပိုင်းများ၊ စက်အရန် ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်ဖြစ်စေ၊ အခြား ပြည်တွင်း အခွန်အကောက်များဖြစ်စေ၊ နှစ်မျိုးလုံးကို ဖြစ်စေ ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ကို ဤကော်မရှင်သို့ တင်ပြ လျှောက်ထား ရမည်။

၄။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၂၀(ဆ)အရ ပြည်ပမှ ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာ အစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများ တင်သွင်းရာတွင် တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ် ပြုထားသည့် စစ်ဆေးရေး ကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရမည်။

၅။ ဒိုင်းမွန်းစတားကုမ္ပဏီလီမိတက် (Diamond Star Company Limited.) သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မူလ အဆိုပြုလွှာ၌ ဖော်ပြထားသည့် **ထုတ်လုပ်မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များ** အဖြစ် ထားရှိဆောင်ရွက်အကောင်အထည်ဖော်ရမည်။

၆။ ဒိုင်းမွန်းစတားကုမ္ပဏီလီမိတက် (Diamond Star Company Limited.) သည် ဤအဆိုပြုလုပ်ငန်း၏ စာရင်းများကို သီးခြားပြုစုထား ရှိရမည်။

၇။ အဆိုပြုလုပ်ငန်းဆောင်ရွက်ရန်အတွက် လယ်ယာ စိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၊ စိုက်ပျိုးရေးဦးစီးဌာနနှင့် ဒိုင်းမွန်းစတားကုမ္ပဏီလီမိတက် (Diamond Star Company Limited.) တို့အကြားလက်မှတ်ရေးထိုးထားသည့် မြေငှားရမ်းခြင်း သဘောတူစာချုပ်ကို ပြင်ဆင်သည့် ဒုတိယအကြိမ်ပြင်ဆင်ချက်သဘောတူစာချုပ်အား ထိုက်သင့်သော တံဆိပ်ခေါင်းခွန်များ ထမ်းဆောင်ပြီးသည့်အခါ ယင်း သဘောတူ စာချုပ် မိတ္တူ(၅)စောင်ကို ဤကော်မရှင်သို့ မပျက်မကွက် ပေးပို့တင်ပြရမည်။

၈။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ငှားရမ်းခြင်း သက်တမ်းကာလမှာ မူလစာချုပ်စတင်အကျိုးသက်ရောက်သည့် (၃၀-၃-၂၀၁၂) ရက်နေ့မှစ၍ ကနဦးနှစ်(၅၀) နှင့် တစ်ကြိမ်လျှင် (၁၀)နှစ် သက်တမ်းဖြင့်(၂)ကြိမ်တိုးမြှင့်နိုင်သည်။ မြေ နှင့် အဆောက်အဦး ငှားရမ်းခ မှာ တစ်နှစ်လျှင် ကျပ် ၄၂,၀၀၀,၀၀၀(ကျပ်လေးဆယ်နှစ်သန်းတိတိ) နှုန်းဖြင့် ငှားရမ်းပြီး စာချုပ်သက်တမ်း ကာလတိုးမြှင့်ခြင်းအား ကော်မရှင်သို့ တင်ပြ၍ခွင့်ပြုချက်ရရှိပြီးမှသာ အတည်ဖြစ်သည်။ ငှားရမ်းကာလ (၅)နှစ်ပြည့်မြောက်တိုင်း ငှားရမ်းခအား လုပ်ငန်းအကျိုးအမြတ်အပေါ်မူတည်၍ ပြန်လည်ညှိနှိုင်းသတ်မှတ်နိုင်သည်။

၉။ အဆိုပြုလုပ်ငန်းဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော်အစိုးရမှ မြေယာနှင့် ပတ်သက်၍ သတ်မှတ်ပြဌာန်းသည့် စည်းကမ်း သတ်မှတ်ချက်များကို တိကျစွာလိုက်နာ ဆောင်ရွက်ရမည်။

၁၀။ ဒိုင်းမွန်းစတားကုမ္ပဏီလီမိတက် (Diamond Star Company Limited.) သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှုမရှိစေရေး အတွက် စီမံကိန်းဆိုင်ရာ အချက်အလက်များ ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှု အနည်းဆုံး ဖြစ်စေ မည့် ကုန်ထုတ်လုပ်မှု နည်းစနစ်များ အသုံးပြုခြင်းနှင့် အဆိုပြုလွှာတွင် ပါဝင်သည့် လူမှုရေး ဆိုင်ရာ တာဝန်ခံမှု (CSR) လုပ်ငန်းများအတွက် အသားတင်အမြတ်ငွေ၏ (၁%) အား အသုံးပြုခြင်းတို့ အပါအဝင် ကတိကဝတ်များနှင့် လုပ်ငန်းစီမံချက်များအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်သွားရန်၊ စွန့်ပစ်ပစ္စည်းများအား စနစ်တကျ စွန့်ပစ်မည့် အစီအစဉ်များ ပါဝင်သော စွန့်ပစ်ပစ္စည်း စီမံခန့်ခွဲမှု အစီအစဉ်၊ လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် ကုန်ထုတ်လုပ်မှု နည်းပညာများ၊ လုပ်ငန်းအစီအစဉ်၊ ပတ်ဝန်းကျင် ထိခိုက်မှု လျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စောင့်ကြပ်ကြည့်ရှုမည့် အစီအစဉ်များ စသည်တို့ပါ ဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP)ကို ရေးဆွဲတင်ပြရန်နှင့် EMP အစီအစဉ်ပါ အတိုင်း အကောင်အထည်ဖော်လိုက်နာ ဆောင်ရွက်ရမည်။

၁၁။ ဒိုင်းမွန်းစတားကုမ္ပဏီလီမိတက်(Diamond Star Company Limited.) သည် ထုတ်လုပ်မှုနည်းပညာ၊ ထုတ်လုပ်မှု အရည်အသွေး၊ Trade Mark ကုန်ပစ္စည်းအမှတ်တံဆိပ် အမည်/အမှတ်အသား၊ ဈေးကွက်ပိုင်းဆိုင်ရာတို့နှင့်စပ်လျဉ်း၍ အဆိုပြုချက်တွင်တင်ပြထားသည့် အတိုင်းအကောင်အထည်ဖော် ဆောင်ရွက်ရမည်။၎င်းအပြင်သက်ဆိုင်ရာဌာနများ၏ ညွှန်ကြားချက်များ အတိုင်း လိုက်နာဆောင်ရွက်ရမည်။

၁၂။ ဒိုင်းမွန်းစတားကုမ္ပဏီလီမိတက် (Diamond Star Company Limited.) မှ အဆိုပြု လုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား၊ လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အားဝန်ကြီးဌာန၊ အလုပ်သမားညွှန်ကြားရေးဦးစီးဌာနနှင့် ညှိနှိုင်း ဆောင်ရွက် ရမည်။ ထို့အပြင်အလုပ်ရှင်နှင့်အလုပ်သမား ဆက်ဆံရေးပြေလည်စေရန် အလေးထား ဆောင်ရွက် ရမည်။ လုပ်ငန်းခွင်သာယာရေးနှင့် စာရင်းဇယား စနစ်တကျ ရှိစေရေးအတွက် အဆိုပြုချက်တွင် တင်ပြ ထားသည့် အတိုင်း စီစဉ် ဆောင်ရွက်ရမည်။

၁၃။ ဒိုင်းမွန်းစတားကုမ္ပဏီလီမိတက် (Diamond Star Company Limited.) သည် ၎င်း ခွင့်ပြုမိန့်အရဝန်ဆောင်မှုလုပ်ငန်းဆောင်ရွက်ရာ၌ မီးဘေးအန္တရာယ်စသည်များမဖြစ်ပေါ်စေရေး အတွက် လိုအပ်သည့် မီးဘေးအန္တရာယ် ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံကတိ

ပြုထားသည့်အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်ဖြစ်ပြီး မီးသတ်ဦးစီးဌာန၏ နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များနှင့် အမိန့်များကို တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။ ထို့အပြင် ရေသိုလှောင်ကန်၊ မီးသတ်ဆေးဘူးများကဲ့သို့ မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်မှု ဆောင်ရွက်ချက်များကို ဆောင်ရွက်ရမည်ဖြစ်ပြီး မီးငြိမ်းသတ်ရေး လုပ်ငန်းသုံးပစ္စည်းများ အသုံးပြုတတ်စေရန်အတွက် သင်တန်း များပေးရမည်။

၁၄။ ဒိုင်းမွန်းစတားကုမ္ပဏီလီမိတက် (Diamond Star Company Limited.) သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှုများ မဖြစ်ပေါ်စေရေးအတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျ ထားရှိ ဆောင်ရွက်ရမည်ဖြစ်ပြီး နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး မူဝါဒ၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဥပဒေ၊ အခြားသော ပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာ နည်းဥပဒေများ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားမှု အခြေအနေကို ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၅။ ဒိုင်းမွန်းစတားကုမ္ပဏီလီမိတက် (Diamond Star Company Limited.) သည် ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေအရ ပြည်နယ်/တိုင်းဒေသကြီး စက်မှုကြီးကြပ်ရေး နှင့် စစ်ဆေးရေး ဦးစီးဌာနတွင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင်ထားရှိ ဆောင်ရွက်ရမည်။

၁၆။ ဒိုင်းမွန်းစတားကုမ္ပဏီလီမိတက် (Diamond Star Company Limited.) သည် ကနဦးလုပ်ငန်းဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့် ရရှိပြီး (သုံး)လ အတွင်း ဤကော်မရှင်သို့ **မပျက်မကွက်**အစီရင်ခံရမည်။ ထို့ပြင်လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၃) လ တစ်ကြိမ် **မပျက်မကွက်** ပုံမှန်ပေးပို့ အစီရင်ခံရမည်။

၁၇။ အဆိုပြုလုပ်ငန်း၏ စီးပွားဖြစ် စတင်ဆောင်ရွက်သည့်နေ့ရက်ကို စီးပွားဖြစ်စတင်ပြီး (တစ်)လ အတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၈။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့် နေရပ်ဒေသလိပ်စာနှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာနှင့် တယ်လီဖုန်းနံပါတ်) တို့ ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ **မပျက်မကွက်** တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၁၉။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ရမည်ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ထုတ်ပေးထားသော ခွင့်ပြုမိန့်၊ သက်ဆိုင်ရာ ဌာနများမှ ထုတ်ပေးထားသော လုပ်ငန်း လိုင်စင်များနှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် ပြည်ပမှတင်သွင်းသည့် ပစ္စည်းများကို တစ်ဆင့်လွှဲပြောင်းခြင်း၊ ရောင်းချခြင်းမပြုရ။ အကယ်၍ အဆိုပြုလုပ်ငန်းကို နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြားအဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် ခွင့်ပြုမိန့်၊ လုပ်ငန်း လိုင်စင်များနှင့် ပြည်ပမှတင်သွင်းသည့်ပစ္စည်းများကို တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း၊ ရောင်းချကြောင်း သက်ဆိုင်ရာက စစ်ဆေးတွေ့ရှိလျှင်လိုအပ်သလို အရေးယူနိုင်ရေးအတွက် သက်ဆိုင်ရာ အစိုးရဌာန၊ အဖွဲ့အစည်းနှင့်ညှိနှိုင်း ဆောင်ရွက်မည့်အပြင်လုပ်ငန်း အဆိုပြုသူသည် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၃၂ (င) အရ နောင်တွင် မည်သည့်ခွင့်ပြုမိန့်မျှ ထုတ်ပေးမည် မဟုတ်သော နာမည်ပျက်စီးပွားရေး လုပ်ငန်းစာရင်း၌ ထည့်သွင်းသည်အထိ အရေးယူခြင်းခံရမည်။

၂၀။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင်ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟု မှတ်ယူရမည်။

(ကျော်ဝင်း)

ဥက္ကဋ္ဌ

စာအမှတ်၊ ရက-၂/မ-၂၁၉/၂၀၁၆ ( ၇၀၅ - ၈၇ )
ရက်စွဲ ၊ ၂၀၁၆ ခုနှစ် စက်တင်ဘာ လ ရက်

သမ္မတဦးစီးရုံး
ပြည်ထောင်စုအစိုးရအဖွဲ့ရုံး
ပြည်ထဲရေးဝန်ကြီးဌာန
လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် ဝန်ကြီးဌာန
အလုပ်သမား၊ လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အားဝန်ကြီးဌာန
စက်မှုဝန်ကြီးဌာန

စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန
စီမံကိန်းနှင့် ဘဏ္ဍာရေး ဝန်ကြီးဌာန
မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆေးဝါးလုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အမျိုးသားမှတ်တမ်းများ မော်ကွန်းတိုက်ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန
အုပ်ချုပ်မှုဒါရိုက်တာ၊ ဒိုင်းမွန်းစတားကုမ္ပဏီလီမိတက် (Diamond Star Company Limited.)

ကုမ္ပဏီအမည် - Diamond Star Co., Ltd.

လုပ်ငန်း - စားသောက်ကုန်များ၊ စိုက်ပျိုးရေးအခြေခံ လယ်ယာ ထွက်ကုန်သီးနှံများအား သန့်စင်ခြင်း၊ပြုပြင်ထုတ်ပိုးခြင်း၊သိုလှောင်ခြင်းနှင့်ငှားရမ်းခြင်း ဝန်ဆောင်မှု လုပ်ငန်း

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက်ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာလက်ခံရရှိခြင်း | ၃-၈-၂၀၁၅ | | |
| ၂ | PAT တင်ပြခြင်း | ၇-၉-၂၀၁၅ | | |
| ၃ | PAT လက်ခံကြောင်းပြန်ကြားခြင်း | ၈-၉-၂၀၁၅ | | |
| ၄ | သဘောထားမှတ်ချက်တောင်းခံခြင်း | | | |
| | (က) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန | ၁၆-၉-၂၀၁၅ | ၁-၁၀-၂၀၁၅ | |
| | (ခ) မန္တလေးတိုင်းဒေသကြီး အစိုးရအဖွဲ့ရုံး | ၁၆-၉-၂၀၁၅ | ၁၃-၁၁-၂၀၁၅ | |
| ၅ | အဆိုပြုချက်အားပြန်လည်ပေးပို့ခြင်း | ၄-၁၂-၂၀၁၅ | | မန္တလေးတိုင်းဒေသကြီး အစိုးရအဖွဲ့ရုံးမှ ခွင့်မပြုကြောင်း ပြန်ကြားလာ၍ အဆိုပြုချက်အားပြန်လည် ပေးပို့ခဲ့ပါသည် |
| | **စုစုပေါင်းကြာမြင့်ချိန်** | ၁၂၁ရက် | | |
| ၆ | အဆိုပြုချက်ပြန်လည်တင်ပြခြင်း | ၇-၆-၂၀၁၆ | | |
| ၇ | မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံးသို့ သဘောထားမှတ်ချက် ပြန်လည်တောင်းခံခြင်း | ၁၄-၆-၂၀၁၆ | ၃-၈-၂၀၁၆ | |
| ၈ | အဆိုပြုလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏( ၁၇ /၂၀၁၆) ကြိမ်မြောက်အစည်းအဝေးသို့တင်ပြခြင်း | | | |
| | စုစုပေါင်းကြာမြင့်ချိန် | ၉၂ ရက် | | |

| | | |
|---|---|---|
| ကုမ္ပဏီအမည် | - | ဒိုင်းမွန်းစတား ကုမ္ပဏီလီမိတက် (Diamond Star Co., Ltd.) |
| အဖွဲ့အစည်းပုံသဏ္ဍာန် | - | ရာခိုင်နှုန်းပြည့် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | - | စားသောက်ကုန်များ၊ စိုက်ပျိုးရေးအခြေခံ လယ်ယာထွက်ကုန်သီးနှံများအားသန့်စင်ခြင်း၊ ပြုပြင်ထုတ်ပိုးခြင်း၊ သိုလှောင်ခြင်းနှင့် ငှားရမ်းခြင်း ဝန်ဆောင်မှုလုပ်ငန်း |
| တည်နေရာ | - | မန္တလေးတိုင်းဒေသကြီး၊ အမရပူရမြို့နယ်၊ နတ်ရေကန်ကျေးရွာ၊ အမရပူရ ဝါစက်ဝန်း၊ စိုက်ပျိုးရေးမွေးမြူရေး နှင့် ဆည်မြောင်းဝန်ကြီးဌာန၊ စိုက်ပျိုးရေးဦးစီးဌာန(စက်မှု သီးနှံ)ပိုင်မြေ |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - | ကျပ် ၁၀၂၅၈.၉၇ သန်း<br>(အမေရိကန်ဒေါ်လာကျပ်၁.၇၃ သန်းအပါအဝင်) |
| လုပ်ငန်းသက်တမ်း | - | ကနဦး ၅၀ နှစ် နှင့် နောက်ထပ် (၁၀) နှစ် သက်တမ်းတိုးနှစ်ကြိမ် |
| အရင်းကြေကာလ | - | ၉ နှစ် |
| IRR | - | ၁၂.၄၁ % |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost | Benefit |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်း၏လစာ | ကျပ် ၁.၅၄၈ သန်း (တစ်နှစ်) | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | - | ကျပ် ၁.၁၆၅ သန်း |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ကျပ် ၁၀၃.၈ သန်း | |
| ၄ | ဝင်ငွေခွန် | ကျပ် ၂၈၀.၄၄ သန်း | ကျပ် ၆၀၀.၈၁ သန်း |
| ၅ | ကုန်သွယ်လုပ်ငန်းခွန် | | ကျပ် ၂၈၈.၆ သန်း |
| ၆ | ရေ၊ လျှပ်စစ်မီးသုံးစွဲခ | | ကျပ် ၂၂၂၃.၂၉ သန်း |
| ၇ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | | တစ်နှစ်ဝင်ငွေကျပ်သိန်းနှစ်ဆယ် ထက်ကျော်ပါကအခွန်ဆေးရမည့်ဝန်ထမ်း (၅၆၃)ဦး |
| ၈ | CSR (၁ %) | | ကျပ် ၆၁.၅၂ သန်း |
| ၉ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်း ၅၆၃ ဦး<br>ပြည်တွင်းလုပ်သား ( ၅၆၃ ) ဦး အလုပ်အကိုင်ရရှိမည်ဖြစ်၍ဒေသအလုပ်အကိုင်အခွင့်အလမ်းနှင့်ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုကိုအထောက်အကူပြုစေပါသည်။ |
| | | ကျပ် ၃၈၅.၇၉ သန်း | ကျပ် ၃၁၁၃.၈၅ သန်း |
| | Cost & Benefit | ၁ : ၈ | |

အကြောင်းအရာ။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ဒိုင်းမွန်းစတား ကုမ္ပဏီလီမိတက် (Diamond Star Co., Ltd.) မှ စားသောက်ကုန် များ၊ စိုက်ပျိုးရေး အခြေခံ လယ်ယာ ထွက်ကုန် သီးနှံများအား သန့်စင်ခြင်း၊ ပြုပြင် ထုတ်ပိုးခြင်း၊ သိုလှောင်ခြင်းနှင့် ငှားရမ်းခြင်း ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်း ကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/<br>ကမကထပြုသူ | - ဒိုင်းမွန်းစတား ကုမ္ပဏီလီမိတက်<br>(Diamond Star Co., Ltd.)<br>- ဦးကိုကိုကြီး(ခ)စိုးနိုင်(အဘ-ဦးစိန်မြင့်)<br>(မန်နေဂျင်းဒါရိုက်တာ) |
| | အဖွဲ့အစည်းပုံသဏ္ဌာန် | - ရာခိုင်နှုန်းပြည့်မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု |
| | လုပ်ငန်းအမျိုးအစား | - စားသောက်ကုန်များ၊ စိုက်ပျိုးရေး အခြေခံ လယ်ယာ ထွက်ကုန် သီးနှံများအား သန့်စင်ခြင်း၊ ပြုပြင်ထုတ်ပိုးခြင်း၊ သိုလှောင်ခြင်း နှင့် ငှားရမ်းခြင်း ဝန်ဆောင်မှု လုပ်ငန်း |
| ၂။ | တည်နေရာ | - မန္တလေးတိုင်းဒေသကြီး၊ အမရပူရမြို့နယ်၊ နတ်ရေကန် ကျေးရွာ၊ အမရပူရဝါစက်ဝန်း၊ |
| ၃။ | မြေအကျယ်အဝန်း<br>မြေပိုင်ရှင်<br><br>မြေငှားရမ်းခ | - ၇.၇၀၈ဧက (၃၁၁၆၀.၈၂ စတုရန်းမီတာ)<br>- စိုက်ပျိုးရေးမွေးမြူရေး နှင့် ဆည်မြောင်း ဝန်ကြီးဌာန စိုက်ပျိုးရေးဦးစီးဌာန(စက်မှု သီးနှံ)ပိုင်မြေ<br>- တစ်နှစ် ကျပ် ၄၂ သန်း |
| ၄။ | လုပ်ငန်းသက်တမ်း<br>တည်ဆောက်ရေးကာလ | - ကနဦး ၅၀ နှစ်<br>- ၁ နှစ် ၆ လ |
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | ကျပ် ၁၀၂၅၈.၉၇ သန်း (အမေရိကန်ဒေါ်လာ ၁.၇၃သန်း အပါအဝင်) |

| စဉ် | ရင်းနှီးမြှုပ်နှံမှု ပမာဏ | နိုင်ငံခြားငွေ US$(သန်း) | ကျပ်ငွေ (သန်း) | စုစုပေါင်း ကျပ်(သန်း) |
|---|---|---|---|---|
| ၁။ | ငွေပမာဏ | | ၅၉၂၃.၅၄ | ၅၉၂၃.၅၄ |
| ၂။ | စက်ပစ္စည်းကိရိယာများ တန်ဖိုး(ပြည်ပ) | ၀.၈၁ | | ၈၈၇.၃၅ |
| ၃။ | ပရိဘောဂနှင့်လုပ်ငန်း သုံးပစ္စည်းများတန်ဖိုး (ပြည်တွင်း) | | ၂၄၃၅.၇၄ | ၂၄၃၅.၇၄ |
| ၄။ | လုပ်ငန်းသုံးပစ္စည်းများ (ပြည်ပ) | ၀.၉၂ | | ၁၀၁၂.၃၄ |
| | စုစုပေါင်း | ၁.၇၃ | ၈၃၅၉.၂၈ | ၁၀၂၅၈.၉၇ |

| | | |
|---|---|---|
| ၆။ | ဝန်ထမ်းအင်အား | - ၅၆၃ ဦး |
| | ပြည်တွင်း | - ၅၆၃ ဦး(ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာ ၁၅၀,၀၀၀ ကျပ်နှင့်အမြင့်ဆုံးလစာ ၁,၂၀၀,၀၀၀ ကျပ်) |
| ၇။ | နှစ်စဉ်ဝန်ဆောင်မှု ပုံမှန်နှစ် | စဉ် / အကြောင်းအရာ / ဝန်ဆောင်ခရငွေ |
| | | ၁ Whole Sale Center ၈၅၈.၀၀ သန်း |
| | | ၂ Logistic Center ၁၂၃၆.၄၇ သန်း |
| | | ၃ Processing ၁၀၅၃.၈၀ သန်း |
| ၈။ | (၆ နှစ်မြောက်)ဝင်ငွေ | - ကျပ် ၃၁၄၈.၂၇ သန်း |
| | အသုံးစရိတ် | - ကျပ် ၂၇၂၇.၆၁ သန်း |
| | အသားတင်အမြတ် | - ကျပ် ၄၂၀.၆၆ သန်း |
| ၉။ | နိုင်ငံတော်မှရရှိမည့် အကျိုးအမြတ် | |
| | ဝင်ငွေခွန် | - ကျပ် ၁၄၀.၂၂ သန်း |
| | ကုန်သွယ်လုပ်ငန်းခွန် | - ကျပ် ၄၂.၉၀ သန်း |
| | အရင်းကြေကာလ | - ၉ နှစ် |
| | အရင်းအနှီးအပေါ်အကျိုး အမြတ်ပြန်ပေါ်နှုန်း (IRR) | - ၁၂.၄၁ % |
| ၁၀။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု(နှစ်စဉ်) | - (၁၆၀၀ Kw ) |
| | ငွေကြေးအထောက်အထား | - Diamond Star Co., Ltd သည် မြန်မာ့ရင်းနှီးမြှုပ်နှံမှုနှင့် ကူးသန်းရောင်းဝယ်ရေးဘဏ်တွင်(၂၄-၆-၂၀၁၆) ရက်စွဲဖြင့် ငွေစာရင်း လက်ကျန် အမေရိကန်ဒေါ်လာ၅.၄၅၈ သန်း ရှိကြောင်း ဖော်ပြ ထားပါသည်။ |
| ၁၁။ | အခြားတင်ပြချက် | - အဆိုပြုလုပ်ငန်းသည် စိုက်ပျိုးရေးမွေးမြူရေးနှင့် ဆည်မြောင်း ဝန်ကြီးဌာန၊ စိုက်ပျိုးရေးဦးစီးဌာန (စက်မှုသီးနှံ) ပိုင်မြေအား ငှားရမ်းဆောင်ရွက်ခြင်းအပေါ် ပြည်ထောင်စုအစိုးရအဖွဲ့မှ သဘောတူ ခွင့်ပြုပြီးဖြစ်ပါ သည်။<br>- စိုက်ပျိုးရေးဦးစီးဌာန နှင့် ဒိုင်းမွန်းစတား ကုမ္ပဏီလီမိတက် တို့ ရှေ့နေချုပ်သဘောထားနှင့်အညီ ပြင်ဆင် ချုပ်ဆို ထားသော မြေငှားရမ်းခြင်း သဘောတူစာချုပ် တင်ပြ ထားပါသည်။<br>- မြေငှားရမ်းခြင်းသဘောတူစာချုပ်(မူကြမ်း) အပေါ် ပြည်ထောင်စု ရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက် တင်ပြထားပါသည်။ |

| | | |
|---|---|---|
| | | - Diamond Star Co., Ltd ၏ ကုမ္ပဏီ မှတ်ပုံတင်၊ MOA, AOA (မိတ္တူ)များ တင်ပြထားပါသည်။<br>- ဒါရိုက်တာအဖွဲ့ဝင်များ၏မှတ်ပုံတင်မိတ္တူတင်ပြထား ပါသည်။<br>- စက်ရုံ၏တည်နေရာပြမြေပုံ နှင့် Layout Plan များကို တင်ပြထားပါသည်။<br>- လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းသက်သာ ချောင်ချိရေး စီမံချက်၊ ပတ်ဝန်းကျင် ထိန်းသိမ်းစောင့်ရှောက်မည် ဖြစ်ကြောင်း ကတိဝန်ခံချက်၊ Waste Water Treatment Plant ၏ အစီရင်ခံစာ၊ အလုပ်သမားများ လစာအပေါ် ဝင်ငွေခွန် ပေးဆောင်မည် ဖြစ်ကြောင်း ဝန်ခံကတိပြုစာ၊ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ လျှောက်ထား ချက်နှင့် CSR Project တို့ကို တင်ပြထားပါသည်။<br>- အဆိုပြုချက်အား ၂၀၁၅ခုနှစ် စက်တင်ဘာလ ၈ ရက် ကျင်းပသော အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၃၂/၂၀၁၅ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြထား ပါ သည်။<br>- Exchange Rate အနေဖြင့် 1US$ = 1200 MMK ဖြင့် ဖော်ပြထားပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ မရက - ၂/ မ- ၂၁၉/ ၂၀၁၆ ( ၉၄၃ )
ရက်စွဲ ၊ ၂၀၁၆ ခုနှစ် ဩဂုတ်လ ၃၀ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**
**တင်ပြသည့်အမှာစာ**

အကြောင်းအရာ။ **မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ဒိုင်းမွန်းစတား ကုမ္ပဏီလီမိတက် (Diamond Star Co., Ltd.) မှ စားသောက်ကုန် များ၊ စိုက်ပျိုးရေး အခြေခံ လယ်ယာ ထွက်ကုန် သီးနှံများအား သန့်စင်ခြင်း၊ ပြုပြင် ထုတ်ပိုးခြင်း၊ ရောင်းချခြင်း၊သိုလှောင်ခြင်းနှင့် ငှားရမ်းခြင်းဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက် ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်း ကိစ္စ**

၁။ ဒိုင်းမွန်းစတား ကုမ္ပဏီလီမိတက် (Diamond Star Co., Ltd.) သည် မန္တလေးတိုင်းဒေသကြီး၊ အမရပူရမြို့နယ်၊ နတ်ရေကန်ကျေးရွာ၊ အမရပူရဝါစက်ရုံဝန်း၊ စိုက်ပျိုးရေး၊ မွေးမြူရေး နှင့် ဆည်မြောင်းဝန်ကြီးဌာန၊ စိုက်ပျိုးရေးဦးစီးဌာန(စက်မှု သီးနှံ)ပိုင် မြေ (၇.၇၀) ဧကကို BOT စနစ်ဖြင့် ငှားရမ်း၍ စားသောက်ကုန်များ၊ စိုက်ပျိုးရေးအခြေခံ လယ်ယာ ထွက်ကုန်သီးနှံများအား သန့်စင်ခြင်း၊ ပြုပြင်ထုတ်ပိုးခြင်း၊ ရောင်းချခြင်း၊ သိုလှောင်ခြင်းနှင့် ငှားရမ်းခြင်း ဝန်ဆောင်မှုလုပ်ငန်းကို မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက် ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် သို့ အဆိုပြု တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်နှင့်အညီ ပြင်ဆင်ထားပြီး စိုက်ပျိုးရေး၊ မွေးမြူရေး နှင့် ဆည်မြောင်းဝန်ကြီးဌာန၊ စိုက်ပျိုးရေးဦးစီးဌာန (စက်မှု သီးနှံ)နှင့် ဒိုင်းမွန်းစတား ကုမ္ပဏီလီမိတက် (Diamond Star Co., Ltd.) တို့ချုပ်ဆို ထားသည့် ဒုတိယအကြိမ်ပြင်ဆင်ချက် သဘောတူစာချုပ်ကို တင်ပြထားပါသည်။ မြေငှားစာချုပ်ပါ အဓိက အချက်များမှာအောက်ပါအတိုင်းဖြစ်ပါသည်-

(က) ငှားရမ်းခြင်းကာလမှာ အငှားချထားသည့်မြေကို တရားဝင်လွှဲအပ်ပေးသည့် ၂၀၁၂ခုနှစ် မတ်လ ၃၀ရက်နေ့မှ စ၍ ၅၀နှစ် ဖြစ်သည်။ သက်တမ်းတိုးလိုပါက အငှားချထားသူ၏ အတည်ပြုချက်ဖြင့် တစ်ကြိမ်လျှင် ၁၀နှစ် သက်တမ်းဖြင့် သက်တမ်း၂ကြိမ်တိုးမြှင့်နိုင်သည်။

(ခ) အငှားချထားမည့် ဌာနပိုင်မြေ (၇.၇၀) ဧကအား တစ်နှစ်လျှင် ၄၂၀၀၀၀၀ိ/- (ကျပ်လေးဆယ့်နှစ်သန်းတိတိ) နှုန်းဖြင့် ငှားရမ်းကြရန် သဘောတူကြပါသည်။ ငှားရမ်းခငွေအား ပြင်ဆင်ချက်သဘောတူစာချုပ် ချုပ်ဆိုသည့်နေ့မှစ၍ ငှားရမ်းခ ထပ်မံလိုအပ်ငွေကိုသာ ပေးသွင်းရန်ဖြစ်ပါသည်။

(ဂ) အငှားချထားသည့်ဧကနပိုင်မြေ(၇.၇၀)ဧက၏ ငှားရမ်းခအား တစ်နှစ်တစ်ကြိမ် ငွေပေး သွင်းသည့် စနစ်ဖြင့်ငှားရမ်းကာလမစေ့ရောက်မီ တစ်ပတ်အတွင်း ကြိုတင်၍ စိုက်ပျိုးရေးဦးစီးဌာန (စက်မှုသီးနှံ)၊ ငွေစာရင်းအမှတ် MD-013288 ၊ မြန်မာ စီးပွားရေးဘဏ်၊ နေပြည်တော်သို့ အပြေအကျေပေးချေရမည်။ စေ့ရောက်သည့် နေ့ ရက်တွင် ပေးချေခြင်းမရှိပါက ဒဏ်ကြေးအဖြစ် တစ်လလျှင် တစ်နှစ်စာငှားရမ်းခ ၏ ၂% နှုန်းဖြင့် ကျော်လွန်ရက် အတိအကျတွက်ချက်၍ ထပ်ဆောင်း ပေးချေရ မည်။

(ဃ) ငှားရမ်းကာလ (၅)နှစ်ပြည့်မြောက်တိုင်း အဆိုပါငှားရမ်းကာလပြည့်မည့်နေ့မတိုင်မီ (၆)လ ကြိုတင်၍ ငှားရမ်းခအား လုပ်ငန်းအကျိုးအမြတ်အပေါ်မူတည်၍ ပြန်လည် ညှိနှိုင်းရန်သဘောတူညီပါသည်။

(င) ငှားရမ်းခအား(၅)နှစ်တစ်ကြိမ် လုပ်ငန်းဆောင်ရွက်မှု အကျိုးအမြတ်အပေါ် သုံးသပ်၍ ပြန်လည်သတ်မှတ်ပြင်ဆင်စာချုပ်ချုပ်ဆိုရန်၊ ထိုသို့သတ်မှတ်ရာတွင် နောက်ဆုံး သတ်မှတ်နှုန်းထက် (၁၀)% ပိုခြင်း၊ လျော့ခြင်းမဖြစ်စေရပါ။

၃။ လုပ်ငန်းဆောင်ရွက်မည့် မြေဧရိယာမှာ ၇.၇၀ဧက (၃၁၁၆၀.၈၂ စတုရန်းမီတာ) ဖြစ်ပြီး မြေငှားရမ်းခမှာ တစ်နှစ်လျှင် ကျပ် ၄၂ သန်း ဖြစ်ပါသည်။ မြေငှားရမ်းသက်တမ်းမှာ ကနဦး ၅၀ နှစ် နှင့် ၁၀နှစ် နှစ်ကြိမ် သက်တမ်းတိုးမည်ဖြစ်ပါသည်။

၄။ လုပ်ငန်းစီမံကိန်း ကာလမှာ ကနဦး ၅၀ နှစ်နှင့် သက်တမ်းတိုး ၁၀နှစ် နှစ်ကြိမ် ဖြစ်ပြီး၊ တည်ဆောက်ရေးကာလ ၁ နှစ် ၆လ ကြာမြင့်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်းမတည်ငွေရင်းမှာ အမေရိကန်ဒေါ်လာ ၁.၇၃ သန်းအပါအဝင်ကျပ် ၁၀၂၅၈.၉၇ သန်းဖြစ်ပြီးအောက်ပါအတိုင်းထည့်ဝင်ထားပါသည်-

| စဉ် | | နိုင်ငံခြားငွေ US$(သန်း) | ကျပ်ငွေ (သန်း) | စုစုပေါင်း ကျပ်(သန်း) |
|---|---|---|---|---|
| (က) | ငွေပမာဏ | | ၅၉၂၃.၅၄ | ၅၉၂၃.၅၄ |
| (ခ) | စက်ပစ္စည်းကိရိယာ များတန်ဖိုး(ပြည်ပ) | ၀.၈၁ | | ၈၈၇.၃၅ |
| (ဂ) | ပရိဘောဂနှင့်လုပ်ငန်းသုံးပစ္စည်းများ တန်ဖိုး(ပြည်တွင်း) | | ၂၄၃၅.၇၄ | ၂၄၃၅.၇၄ |
| (ဃ) | လုပ်ငန်းသုံးပစ္စည်း များ (ပြည်ပ) | ၀.၉၂ | | ၁၀၁၂.၃၄ |
| | စုစုပေါင်း | ၁.၇၃ | ၈၃၅၉.၂၈ | ၁၀၂၅၈.၉၇ |

၆။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းဝန်ထမ်းဦးရေ (၅၆၃) ဦးနှင့် ပြည်တွင်းဝန်ထမ်း၏ အနိမ့်ဆုံး လစာမှာ ကျပ် ၁၅၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံး လစာမှာ ကျပ် ၁,၂၀၀,၀၀၀ ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှ ပုံမှန်နှစ်တွင် နှစ်စဉ်ဝန်ဆောင်မှုနှင့် ဝန်ဆောင်ခရငွေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | အကြောင်းအရာ | ဝန်ဆောင်ခရငွေ (ကျပ်သန်း) |
|---|---|---|
| (က) | Whole Sale Center | ၈၅၈.၀၀ |
| (ခ) | Logistic Center | ၁၂၃၆.၄၇ |
| (ဂ) | Processing | ၁၀၅၃.၈၀ |

၈။ လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်တွင် ရရှိမည့် ဝင်ငွေ နှင့် အသုံးစရိတ်ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | | |
|---|---|---|
| (က) | ဝင်ငွေ | ကျပ် ၃၁၄၈.၂၇ သန်း |
| (ခ) | အသုံး စရိတ် | ကျပ် ၂၇၂၇.၆၁ သန်း |
| (ဂ) | အသားတင်အမြတ် | ကျပ် ၄၂၀.၆၆၄ သန်း |

၉။ နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | | |
|---|---|---|
| (က) | ဝင်ငွေခွန် | ကျပ် ၁၄၀.၂၂ သန်း |
| (ခ) | ကုန်သွယ်လုပ်ငန်းခွန် | ကျပ် ၄၂.၉၀ သန်း |

၁၀။ လုပ်ငန်း၏ အရင်းကြေကာလမှာ (၉)နှစ် ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) မှာ (၁၂.၄၁) ရာခိုင်နှုန်း ဖြစ်ပါသည်။

၁၁။ အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက်များ ပြန်ကြားထားပါသည်-

(က) **မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့** မှ ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် နေရာသည် နောင် ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်း မရှိပါကြောင်း၊ အဆိုပြုလုပ်ငန်း လုပ်ကိုင်ပါက လုပ်ငန်းတွင် အလုပ်သမားအင်အား (၅၀၀)ကျော် လိုအပ်မည်ဖြစ်၍ ဒေသခံများအား ဦးစားပေးပြီး အလုပ်ခန့်မည်

ဆိုပါက အလုပ်အကိုင် အခွင့်အလမ်းများ ရရှိမည်ဖြစ်ပြီး ဒေသစီးပွားရေး ဖွံ့ဖြိုး တိုးတက်ရေးအတွက် အထောက်အကူ ဖြစ်စေပါကြောင်း၊ ဖော်ပြပါ မြေနေရာအား ငှားရမ်းလုပ်ကိုင်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝ ပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိပါကြောင်း၊ အဆိုပြု လုပ်ငန်း လုပ်ကိုင်ရာတွင် သဘာဝပတ်ဝန်းကျင်အား ထိခိုက်မှုမရှိအောင် ဆောင်ရွက် မည်ဆိုပါက လက်ခံနိုင်ပါကြောင်း ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းသစ် ဆောင်ရွက်မှုအား ခွင့်ပြုသင့် ပါကြောင်း သဘောထား ပြန်ကြား ထားပါသည်။ **နောက်ဆက်တွဲ-က**

(ခ) **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန** မှအဆိုပြုလုပ်ငန်း ကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်နှင့် လူမှုရေး ထိခိုက်ပျက်စီးမှုများ လျော့နည်းစေရေးအတွက် လုပ်ငန်းစီမံချက်များ ရေးဆွဲချမှတ်ခြင်း၊ ထုတ်လုပ်ခြင်း လုပ်ငန်း အဆင့်ဆင့်တွင် စီမံကိန်းဆိုင်ရာ အချက်အလက်များ ပြည့်စုံစွာဖော်ပြပြီး အဆိုပြုလွှာတွင် ပါဝင်သည့် လူမှုရေးဆိုင်ရာ တာဝန်ခံမှု (CSR) လုပ်ငန်းများ အတွက် အသားတင် အမြတ်ငွေ၏ (၁%) အား အသုံးပြုခြင်းတို့ အပါအဝင် ကတိ ကဝတ်များနှင့် လုပ်ငန်း စီမံချက်များ အတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်၊ လုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ကိုထိခိုက်မှု အနည်းဆုံး ဖြစ်စေမည့် ကုန်ထုတ်လုပ်မှု နည်းပညာများ၊ လုပ်ငန်းအစီအစဉ်၊ ပတ်ဝန်းကျင် ထိခိုက်မှု လျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေ စသည့်တို့ ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP)ကို ရေးဆွဲတင်ပြရန်နှင့် EMP အစီအစဉ်ပါအတိုင်း အကောင် အထည်ဖော် ဆောင်ရွက်ရန်၊ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်း၊ စည်းမျဉ်း စည်းကမ်းများနှင့်အညီ လိုက်နာ ကျင့်သုံး အကောင်အထည်ဖော် ဆောင်ရွက်ရန်၊ သက်ဆိုင်ရာ တိုင်း/ ပြည်နယ် အစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် ဒေသခံ ပြည်သူလူထုများ၏ ဆန္ဒနှင့် သဘောထားများရယူ ဆောင်ရွက်ရန်ဖြစ်ကြောင်း သဘောထားမှတ်ချက် ပြန်ကြား ထားပါသည်။

နောက်ဆက်တွဲ-ခ

၁၂။ Diamond Star Co., Ltd သည် မြန်မာ့ရင်းနှီးမြှုပ်နှံမှုနှင့် ကူးသန်းရောင်းဝယ်ရေးဘဏ်တွင်(၂၄-၆-၂၀၁၆) ရက်စွဲဖြင့် ငွေစာရင်း လက်ကျန် အမေရိကန် ဒေါ်လာ၅,၄၅၈,၂၉၁.၇၉ ရှိကြောင်းနှင့် MOA AOA မူကြမ်း၊ ကုမ္ပဏီ မှတ်ပုံတင် အထောက်အထားများ၊ ပုံစံ၆၊ ပုံစံ၂၆ နှင့် ဒါရိုက်တာ အဖွဲ့ဝင်များ၏ မှတ်ပုံတင်မိတ္တူ များအား တင်ပြထားပါသည်။

၁၃။ အဆိုပြုလုပ်ငန်းသည် မီးဘေးကာကွယ်ရေးစီမံချက်၊ အလုပ်အကိုင်သစ်များ ပေါ်ပေါက်လာမည့်အခြေအနေ၊ လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းသက်သာချောင်ချိရေး စီမံချက်နှင့် ကျန်းမာရေးစောင့်ရှောက်မှုအစီအစဉ်များ၊ လစာခွန် ပေးဆောင်မည်ဖြစ်ကြောင်း ဝန်ခံကတိ ပြုခြင်း၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သန့်ရှင်းသာယာရေး စီမံချက်အစီအစဉ်နှင့် စက်ရုံမှ မီးခိုးမည်း မထွက်စေရန် စီမံချက်၊ လုပ်ငန်းသဘောသဘာဝ၊ လျှပ်စစ်ဓာတ်အား ရယူသုံးစွဲမည့် အစီအစဉ်များကို တင်ပြထားပါသည်။

၁၄။ ကုမ္ပဏီမှ လုပ်ငန်းလုပ်ဆောင်၍ ရရှိလာသည့် အမြတ်ငွေ၏ ၂% ကို Cooperate Social Responsibility (CSR) လုပ်ငန်းတွင် ထည့်ဝင်မည်ဖြစ်ကြောင်း ဝန်ခံကတိ တင်ပြထားပါသည်။

၁၅။ ကုမ္ပဏီမှ စက်ရုံမီးဘေးကာကွယ်ရေးစီမံချက်၊ ဝန်ထမ်းလစာများ နှင့် ပတ်သက်၍ သတ်မှတ်နှုန်းထားများအတိုင်း အခွန်ပေးဆောင်မှု ကတိဝန်ခံချက်၊ ကုမ္ပဏီ၏ ခွင့်ပြုမတည်ငွေရင်း တိုးမြှင့် ခြင်းနှင့် ပတ်သက်၍ ဝန်ခံကတိပြု တင်ပြခြင်းနှင့် ပတ်ဝန်းကျင် ညစ်ညမ်းမှု မရှိစေရန် ကာကွယ် မှုအစီအစဉ်၊ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို တင်ပြထားပါသည်။

**စိစစ်တင်ပြချက်**

၁၆။ စိုက်ပျိုးရေး၊ မွေးမြူရေး နှင့် ဆည်မြောင်းဝန်ကြီးဌာန၊ စိုက်ပျိုးရေးဦးစီးဌာန (စက်မှုသီးနှံ)ပိုင်မြေကိုကုမ္ပဏီသို့ငှားရမ်းခြင်းအားပြည်ထောင်စုအစိုးရအဖွဲ့၏၂၀၁၆ခုနှစ် ဖေဖော်ဝါရီလ ၂၅ ရက်နေ့တွင် ကျင်းပပြုလုပ်သော ၈/၂၀၁၆ ကြိမ်မြောက်အစည်းအဝေးမှ သဘောတူခွင့်ပြုပြီး ဖြစ်ပါသည်။

၁၇။ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအခန်း(၁၁)၊ပုဒ်မ ၂၀ပါ (က၊ ဂ၊ စ၊ ဆ၊ ဇ၊ ည) အရ အခွန်အကောက်ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကို တင်ပြလျှောက်ထားလျှင် ခွင့်ပြုနိုင်မည် ဖြစ်ပါသည်။

၁၈။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၅ ခုနှစ် စက်တင်ဘာလ ၈ ရက်နေ့တွင် ကျင်းပပြုလုပ်သည့် ၃၂/၂၀၁၅ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပြီးဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၉။ ဒိုင်းမွန်းစတား ကုမ္ပဏီလီမိတက် (Diamond Star Co., Ltd.) သည် မန္တလေးတိုင်းဒေသကြီး၊ အမရပူရမြို့နယ်၊ နတ်ရေကန်ကျေးရွာ၊ အမရပူရဝါစက်ရုံဝန်း၊ စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၊ စိုက်ပျိုးရေးဦးစီးဌာန (စက်မှု သီးနှံ) ပိုင်မြေ(၇.၇၀)ဧကကို BOT စနစ်ဖြင့် ငှားရမ်း၍ စားသောက်ကုန်များ၊ စိုက်ပျိုးရေး အခြေခံ လယ်ယာ ထွက်ကုန် သီးနှံများအား သန့်စင်ခြင်း၊ ပြုပြင်ထုတ်ပိုးခြင်း၊ ရောင်းချခြင်း၊ သိုလှောင်ခြင်းနှင့် ငှားရမ်းခြင်း ဝန်ဆောင်မှုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြခြင်း အပေါ် သဘောတူ-မတူ။

ဥက္ကဋ္ဌ (ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

## ကုမ္ပဏီဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာစာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/ အစုရှင်များ၏ အမည် | ဒါရိုက်တာ/ အစုရှင်များ၏ ဆက်သွယ်ရန် လိပ်စာ |
|---|---|---|---|
| ၁။ | (Diamond Star Co., Ltd.) | (၁) ဒေါ်စန်းကြူ<br>ဥက္ကဋ္ဌ<br>အမ်ဒီဝိုင်အက်စ်အီး(နိုင်)၀၀၂၉၇၄ | အမှတ်၂၀၊ ၂၇လမ်းနှင့် ၈၆-၈၇လမ်းကြား၊ချမ်းအေးသာဇံမြို့နယ်၊ မန္တလေးမြို့။ |
| | | (၂) ဦးကိုကိုကြီး(ခ)ဦးစိုးနိုင်<br>မန်နေးဂျင်းဒါရိုက်တာ<br>၁၂/ကတတ(နိုင်) ၀၁၂၂၄၃ | အမှတ်၁၂၆(က)၊ကမ္ဘာအေးဘုရားလမ်း၊ ဗဟန်းမြို့နယ်၊ရန်ကုန်မြို့။ |
| | | (၃) ဒေါ်မိုးမိုး<br>ဒါရိုက်တာ<br>၉/မရမ(နိုင်) ၀၂၆၇၅၉ | အမှတ်၁၂၆(က)၊ကမ္ဘာအေးဘုရားလမ်း၊ ဗဟန်းမြို့နယ်၊ရန်ကုန်မြို့။ |
| | | (၄) ဦးတင်မောင်ဝင်း<br>ဒါရိုက်တာ<br>၁၂/ဗဟန(နိုင်) ၀၄၅၂၇၈ | အမှတ်(၂၂)၊ဘောဓိရိပ်သာလမ်း၊ ဗဟန်းမြို့နယ်၊ရန်ကုန်မြို့။ |
| | | (၅) ဒေါ်အေးစန္ဒာလွင်<br>ဒါရိုက်တာ<br>၁၂/ဥကမ(နိုင်) ၀၁၃၇၅၅ | အမှတ်(၃၈၃)၊ သုနန္ဒာ(၉)လမ်း၊ သုနန္ဒာရပ်ကွက် ၊ မြောက်ဥက္ကလာပမြို့နယ်၊ ရန်ကုန်မြို့။ |
| | | (၆) ဒေါ်မေစုလှိုင်<br>ဒါရိုက်တာ<br>၁၃/တကန(နိုင်)၀၀၃၂၃၁ | တိုက်အမှတ်-၇၊ အခန်းအမှတ်-၄၀၁ ၊ ခပေါင်းအိမ်ရာ၊ ခပေါင်းလမ်း၊ လှိုင်မြို့နယ်၊ ရန်ကုန်မြို့။ |

၁။ ဆက်သွယ်ရမည့် တယ်လီဖုန်းနံပါတ်၊ ဖက်စ်နံပါတ် - ဒေါ်အေးစန္ဒာလွင် (၀၉-၂၀၀၆၄၉၄)

၂။ ဆက်သွယ်ရမည့် လိပ်စာအပြည့်အစုံ - အမှတ်(၃၄)၊တက္ကသိုလ်ရိပ်သာလမ်း၊ ဗဟန်းမြို့နယ်၊ရန်ကုန်မြို့။

၃။ ဆက်သွယ်ရမည့် ပုဂ္ဂိုလ်အမည်၊ ရာထူး - ဦးကိုကိုကြီး (မန်နေဂျင်းဒါရိုက်တာ)

၄။ ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ - စားသောက်ကုန်များ၊စိုက်ပျိုးရေး အခြေခံလယ်ယာထွက်ကုန် သီးနှံများအား သန့်စင်ခြင်း၊ ပြုပြင် ထုတ်ပိုးခြင်း၊ရောင်းချခြင်း၊သိုလှောင်ခြင်းနှင့်ငှားရမ်းခြင်း ဝန်ဆောင်မှုလုပ်ငန်း

၅။ ကုမ္ပဏီမှတ်ပုံတင်အမှတ်/ နေ့စွဲ - ၅၆/၁၉၉၁-၁၉၉၂(၁၃-၅-၁၉၉၁)

၆။ ကုမ္ပဏီမှတ်ပုံတင်ကုန်ဆုံးသည့်နေ့စွဲ - ၃၀-၆-၂၀၁၈

၇။ ဘဏ်အမည်နှင့် ဘဏ်စာရင်းအမှတ် - United Amara Bank

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့
မန္တလေးမြို့

စာအမှတ်၊ ၂ / ၃ - ၆ / ၃၂ ဦး ၆( ၁၀၅ )
ရက် စွဲ၊ ၂၀၁၆ ခုနှစ်၊ ဩဂုတ်လ ၃ ရက်

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့

အကြောင်းအရာ။ တိုင်းဒေသကြီးအစိုးရအဖွဲ့ သဘောထားပြန်ကြားခြင်း

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏(၁၄.၆.၂၀၁၆)ရက်စွဲပါ စာအမှတ်၊ မရက - ၂ / မ - ၂၁၉ / ၂၀၁၆(၄၇၆)

၁။ အမရပူရမြို့နယ်၊ နတ်ရေကန်ကျေးရွာ၊ အမရပူရဝါစက်ရုံဝန်း၊ လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာနပိုင် မြေ(၇.၇၀)ကေတွင် ဒိုင်းမွန်းစတားကုမ္ပဏီလီမိတက်(Diamond Star Co.,Ltd) မှ B.O.T စနစ်ဖြင့် ငှားရမ်း၍ စားသောက်ကုန်များ၊ စိုက်ပျိုးရေး အခြေခံ လယ်ယာထွက်ကုန် သီးနှံများအား သန့်စင်ခြင်း၊ ပြုပြင်ထုတ်ပိုးခြင်း၊ သိုလှောင်ခြင်းနှင့် ငှားရမ်းခြင်း ဝန်ဆောင်မှုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်မည့်အပေါ် တိုင်းဒေသကြီးအစိုးရအဖွဲ့၏ သဘောထား စိစစ်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းလာပါသည်။

၂။ ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့် မြေနေရာနှင့်ပတ်သက်၍ စိစစ်ခဲ့ရာ အောက်ပါအတိုင်း တွေ့ရှိရပါသည် -

(က) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် နေရာသည် **နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိ မြို့ပြစီမံကိန်းကို ထိခိုက်ခြင်း မရှိပါကြောင်း ၊**

(ခ) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်ဆောင်ရွက်မည့် လုပ်ငန်းတွင် အလုပ်သမားအင်အား(၅၀၀) ကျော် လိုအပ်မည်ဖြစ်၍ ဒေသခံများအား ဦးစားပေးပြီး အလုပ်ခန့်ထားမည်ဆိုပါက အလုပ်အကိုင်အခွင့်အလမ်းများ ရရှိမည်ဖြစ်ပြီး **ဒေသဖွံ့ဖြိုးတိုးတက်ရေးအတွက် အထောက်အကူ ဖြစ်နိုင်ကြောင်း ၊**

(ဂ) လုပ်ငန်းဆောင်ရွက်မည့် နတ်ရေကန်ကျေးရွာအုပ်စု၊ ဖျောက်ဆိပ်ကုန်းကျေးရွာရှိ ရပ်မိ/ရပ်ဖများနှင့် တွေ့ဆုံ၍ လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ပြီး သဘာဝပတ်ဝန်းကျင် ထိခိုက်မှုမရှိအောင် ဆောင်ရွက်မည်ဆိုပါက လက်ခံနိုင်ပါကြောင်း ၊

(ဃ) လုပ်ငန်းဆောင်ရွက်မည့်နေရာသည် ရန်ကုန် - မန္တလေး အမြန်လမ်းမကြီး၏ အရှေ့ဘက်ကပ်လျက်တွင်ရှိပြီး လုပ်ငန်းပမာဏနှင့် ကိုက်ညီသော ဧရိယာ အကျယ်အဝန်းရှိပြီး လုပ်ငန်းဆောင်ရွက်နိုင်သည့် မြေနေရာဖြစ်ပါကြောင်း စိစစ်တွေ့ရှိရပါသည်။

၃။ သို့ဖြစ်ပါ၍ မြန်မာ နိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ အမရပူရမြို့နယ်၊ နတ်ရေကန်ကျေးရွာ၊ အမရပူရဝါစက်ရုံဝန်း၊ လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာနပိုင် မြေ(၇.၇၀)ဧကတွင် ဒိုင်းမွန်းစတား ကုမ္ပဏီလီမိတက်(Diamond Star Co.,Ltd)မှ B.O.T စနစ်ဖြင့် ငှားရမ်း၍ စားသောက်ကုန်များ၊ စိုက်ပျိုးရေး အခြေခံလယ်ယာထွက်ကုန် သီးနှံများအား သန့်စင်ခြင်း၊ ပြုပြင်ထုတ်ပိုးခြင်း၊ သိုလှောင်ခြင်းနှင့် ငှားရမ်းခြင်း ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်မည့်ကိစ္စနှင့်ပတ်သက်ပြီး (၂၁.၇.၂၀၁၆) ရက်နေ့တွင် ကျင်းပပြုလုပ်သည့် တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ်(၇/၂၀၁၆) ဆုံးဖြတ်ချက်အပိုဒ်(၂၂)အရ ကန့်ကွက်ရန် မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

ဒေါက်တာဇော်မြင့်မောင်
ဝန်ကြီးချုပ်

မိတ္တူကို

လုပ်ငန်းလည်းစာတွဲ ၊
ရုံးလက်ခံ ။

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

စာအမှတ် ၃(၂)/၁၆(ဃ)(၆)/( ၂၆၅၉ /၂၀၁၅)
ရက်စွဲ ၂၀၁၅ ခုနှစ်၊အောက်တိုဘာလ ၁ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ <u>သဘောထားမှတ်ချက်ပြန်ကြားခြင်း</u>

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၆-၉-၂၀၁၅ ရက်စွဲပါစာအမှတ်၊ ရက - ၂ / မ - ၂၁၉ / ၂၀၁၅ (၇၃၄)

၁။ ဒိုင်းမွန်းစတား ကုမ္ပဏီလီမိတက် ( Diamond Star Co., Ltd. ) သည် မန္တလေးတိုင်းဒေသကြီး၊ အမရပူရမြို့နယ်၊ နတ်ရေကန်ကျေးရွာ၊ အမရပူရဝါစက်ရုံဝန်း၊ လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာနပိုင်မြေ(၇.၇၀)ဧကကို B.O.T စနစ်ဖြင့် ငှားရမ်း၍ စားသောက်ကုန်များ ၊ စိုက်ပျိုးရေး အခြေခံ လယ်ယာထွက်ကုန် သီးနှံများအား သန့်စင်ခြင်း ၊ ပြုပြင်ထုပ်ပိုးခြင်း၊ သိုလှောင်ခြင်း နှင့် ငှားရမ်းခြင်း ဝန်ဆောင်မှုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ နှင့် အညီ ဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စနှင့်ပတ်သက်၍ စိစစ်ပြီး ဌာနဆိုင်ရာ သဘောထားမှတ်ချက်ပြန်လည်တင်ပြပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပြု လုပ်ငန်း နှင့် ပတ်သက်၍ စိစစ်ရာတွင် ကုန်ကြမ်းပစ္စည်းများဖြစ်သည့် အသီးအရွက်၊ သား၊ငါး၊ သီးနှံစသည့် လယ်ယာထွက်ကုန်ပစ္စည်းများအား သိုလှောင်ခြင်း၊သန့်စင်ခြင်း၊ ထုပ်ပိုးခြင်းစသည့် လုပ်ငန်းစဉ်များ ဆောင်ရွက်ခြင်းတို့မှ ထွက်ရှိလာမည့် စွန့်ပစ်ပစ္စည်း/ အရည်နှင့် အနံ့အသက်များကြောင့် ပတ်ဝန်းကျင် ရေထု ၊ မြေထု နှင့် လေထုညစ်ညမ်းခြင်းများ ဖြစ်ပေါ်စေနိုင်ပြီး သန့်စင်ခြင်း နှင့် ထုပ်ပိုးခြင်း လုပ်ငန်းစဉ်များတွင် စက်များအသုံးပြု ဆောင်ရွက်မည်ဖြစ်သဖြင့် အသံညစ်ညမ်းခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုများ ဖြစ်ပေါ်စေနိုင်ကြောင်း စိစစ်တွေ့ရှိရပါသည်။

၃။ ဒိုင်မွန်းစတား ကုမ္ပဏီလီမိတက်မှ စားသောက်ကုန်များ ၊ စိုက်ပျိုးရေး အခြေခံ လယ်ယာထွက် ကုန်သီးနှံများအား သန့်စင်ခြင်း ၊ ပြုပြင်ထုပ်ပိုးခြင်း ၊ သိုလှောင်ခြင်း နှင့် ငှားရမ်းခြင်း ဝန်ဆောင်မှုလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းနှင့်ပတ်သက်၍ အောက်ဖော်ပြပါအတိုင်း လိုက်နာဆောင်ရွက်ရန် လိုအပ်မည် ဖြစ်ပါကြောင်း သဘောထားမှတ်ချက်ပြန်ကြားအပ်ပါသည်-

(က) အဆိုပြု လုပ်ငန်းဆောင်ရွက်ခြင်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင် နှင့် လူမှုရေး ထိခိုက်ပျက်စီးမှုများ လျော့နည်းစေရေးအတွက် လုပ်ငန်းစီမံချက်များ ရေးဆွဲချမှတ်ခြင်း ၊ ထုတ်လုပ်ခြင်းလုပ်ငန်း အဆင့်ဆင့်တွင် စီမံကိန်းဆိုင်ရာ အချက်အလက်များပြည့်စုံစွာဖော်ပြပြီး အဆိုပြုလွှာတွင်ပါဝင်သည့်လူမှုရေးဆိုင်ရာ

တာဝန်ခံမှု ( CSR ) လုပ်ငန်းများ အတွက် အသားတင်အမြတ်ငွေ၏ ၁% အား အသုံးပြုခြင်းတို့ အပါအဝင် ကတိကဝတ်များ ၊ လုပ်ငန်းစီမံချက်များအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(ခ) လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ကို ထိခိုက်မှု အနည်းဆုံး ဖြစ်စေမည့် ထုတ်လုပ်မှု နည်းပညာများ၊ လုပ်ငန်းအစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးရေးဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေစသည့်တို့ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် ( Environmental Management Plan-EMP ) ရေးဆွဲတင်ပြရန် နှင့် အစီရင်ခံစာအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(ဂ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေများ ၊ လုပ်ထုံးလုပ်နည်း ၊ စည်းမျဉ်းစည်းကမ်းများနှင့်အညီ လိုက်နာကျင့်သုံး အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(ဃ) သက်ဆိုင်ရာ တိုင်း/ပြည်နယ်အစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် ဒေသခံပြည်သူများ၏ ဆန္ဒနှင့်သဘောထားများ ရယူဆောင်ရွက်ရန်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
( ခင်မောင်ရီ ၊ အမြဲတမ်းအတွင်းဝန် )

မိတ္တူကို

ညွှန်ကြားရေးမှူးချုပ်
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

D:\DIDM\October - CD\Diamond Star Co.,Ltd.doc2